# အပိုင်း (၁)

ပတ်ဝန်းကျင်၏ ဆူညံမှုကြောင့် အိပ်စက်ခြင်းနယ်ပယ်မှ ရုန်းထလာခဲ့ရသည်။ သီချင်းဆိုသံ၊ ရယ်မောပျော်ရွှင်နေသော အသံ၊ လမ်းလျှောက်သံ၊ အော်ဟစ်ဆူညံသံများနှင့် အစုံအလင်။ အိပ်ရေးမဝသောစိတ်နှင့် ပြတင်းပေါက်ဘက်သို့ ဘာရယ်မဟုတ် လှမ်းကာကြည့်မိလိုက်သည်။ ပါတိတ်ထဘီ ရင်ဖုံးအင်္ကျီနှင့် ကျောင်းသူတစ်ဦးအား ညင်သာသောခြေလှမ်းများ သိမ်မွေ့သော ဟန်ပန်နှင့် လျှောက်လှမ်းသွားသည်ကို မြင်တွေ့လိုက်သည်။ သူမ၏ ညို့မြို့အားပြင်းအလှအပကြား မေ့မျော၍နေခဲ့သည်ကို သတိမထားမိ။

"ဟျောင့်လင်းဝေ ဘယ်တွေငေးနေတာလဲ"

ဆိုသည့်စကားသံနှင့်အတူ ကပ်လျက်လိုက်လာသည်မှာ ခေါင်းကို လက်နှင့် အရိုက်ခံလိုက်ရခြင်းဖြစ်သည်။ ထိုအချိန်မှသာလျှင် စောနက ကျောင်းသူလေး၏ အလှကြား စီးဝင်နေသည့် အာရုံမှ လွတ်မြောက်ခဲ့သည်။

စာသင်ချိန်များ တရွေ့ရွေ့နှင့် တစ်ချိန်ပြီးတစ်ချိန်သာ ကုန်ဆုံးလာသည်။ အဆောင်သို့ပြန်ခဲ့သော ခပ်စိပ်စိပ်လှမ်းနေသည့်

ခြေလှမ်းများကြား၌လည်း သူမဆီသာ စိတ်အာရုံများ အကြိမ်ကြိမ် ရောက်နေခဲ့သည်။

ခါတိုင်းဆိုလျှင် ည ၈ နာရီကျော်ပါက အဆောင်နေ ကျောင်းသားများ စုဝိုင်းကာ ဂီတာတီး သီချင်းဆိုနေကြ၊ တက္ကသိုလ်ကျောင်းက အဖြစ်အပျက်များအား ဖောက်သည်ချကာ ပျော်ပါးနေကြနေရာလေးဖြစ်သော မန်ကျည်းပင်အောက် ထိုင်ခုံးတန်းလျားလေးမှာ ဒီကနေ့တော့ ကျနော့်အား မတွေ့ရနိုင်ပေ။ တစ်ကြိမ်တစ်ခါသာမြင်ဘူး၍ ချစ်မိသည်ဆိုသည်မှာ အနည်းငယ်ရယ်စရာပင်။ သို့ပေသည့် အတန်းရှေ့မှဖြတ်လျှောက်သွားသောသူမ၏ ပုံရိပ်များက ဦးနှောက်မှနှလုံးသားသို့ စက္ကန့်တိုင်းကူးဆက်ပြန့်ပွားနေသည်။ ခက်ချေပြီ။ တခနအတွင်း ဖြစ်ပေါ်ခဲ့သည့် အကြောင်းအရာများအား Diary စာအုပ်ထဲ ချကာရေးလိုက်မိသည်။

အတွေးများအား လက်စသပ်ကာ အိပ်ရာဝင်ရန် ပြင်ဆင်လိုက်သည်။ သူမ၏ နာမည်ကိုပင်မသိရသေး၊ စုံစန်းရန်မှာလဲ မလွယ်ကူလှချေ၊ မည်သည့် major မှ ကျောင်းသူဖြစ်သည်ကိုလဲ မသိရှိ၊ ကျောင်းရောက်မှသာ မီးစင်ကြည့်ကရန်သာ၊ ထိုနည်းတစ်ခုသာလျှင်ရှိတော့သည်။

"ကလင် ကလင် ကလင်" နှင့် အဆက်မပြတ်မည်နေသော နာရီနှိုးစက်၏ alarm သံကြောင့် မထချင်ထချင်နှင့် ထခဲ့ရသည်။ မထချင်ထချင်ဖြစ်ရသည့် အကြောင်းမှာ ဆောင်းမနက်ခင်း ဝေလီဝေလင်းတွင် ဆောင်ခြုံ၍ ကွေးရသည်မှာ နတ်သုဒ္ဒါပင်ဖြစ်သည်။ အေးစက်စက်ရေနှင့် မျက်နှာသစ်ရသည့် အခိုက်တန့်က ရှုးလောက်ဖွယ်ရာ။ မျက်နှာသစ်၊ သွားတိုက်ကာ ရေကလဲ မဖြစ်မနေ ချိုးရအုံးမည်။ အဘယ့်ကြောင့် ဆောင်းရာသီမှာမှ ကျောင်းဖွင့်ရသည့် အကြောင်းကို ရေချိုးရင်း အတွေးနယ်ချဲ့နေခဲ့သည်။

မနက်စာ ဝါးတီးဆွဲရန်မှာလဲ ဗိုက်က တောင့်တလာတော့ ထုံးစံအတိုင်းသာ။ လမ်းထိပ်က အသုပ်ဆိုင်မှာ ကိုကျော်သူတို့နှင့်ပင် စားရပ်ကျရမည်။

"အန်တီရေ ထုံးစံအတိုင်း အစုံသုပ်တစ်ပွဲ ဟင်းခါးရည်နဲ့ဗျ"

"အေးအေး ငါ့တူ၊ ငါ့တူတို့ကျောင်းမှာ ရည်းစားတွေဘာတွေ ရနေပြီလားကွဲ့"

ဟူ၍ အသုပ်ဆိုင်မှ အန်တီကြီးက ရယ်မောစွာပြောဆိုနေရင်းပင် ကျနော်မှာထားသာ အစုံသုပ်ကလေးအား လာချပေးသည်။

ဗိုက်ကလဲ ဆာနေသောကြောင့် မူမနေတော့ပဲ ချက်ချင်းပင် ဝါးတီးဆွဲတော့သည်။

ကိုကျော်သူကတော့ Super ကော်မှုန့်တစ်ထုပ်ကို ရေနွေးကြမ်းနဲ ဖျော်ကာ စားပွဲပေါ်ရှိ သတင်းတစ်စောင်ကို ကောက်ဖတ် နေသည်။ ထိုအခါ ကျနော်အကြံတစ်ခုရလိုက်သည်။ ကိုကျော်သူ သည် ကျနော်တို့ရဲ့ စီနီယာ စတုတ္ထနှစ် (E major)ကျောင်းသား ဖြစ်သည်။ သူသည် ကျောင်းမှာတော်တော်ပင် နှံ့စပ်သည်။ ကျောင်းပျော်ကြီးလဲ ဖြစ်သည်။

“ကိုကျော်သူ ကျောင်းမှာဗျာ မျက်မှန်လေးနဲ့ ပါတိတ် ထဘီနဲ့ဗျာ အရပ်ကလဲ ၅ပေ၄, ၅ပေ ၅လာက် ရှိမယ်ဗျ ကိုကျော်သူ အဲ့ကောင်မလေးကိုသိလား”

“ဘယ် major ကလဲငါ့ညီ”

“ကျနော်မသိဘူးဗျ ဟီး”

ကိုယ်ကျော်သူ ကြောင်တောင်တောင် ဖြစ်သွားသည်။ သူကြောင် ရင်လဲ ကြောင်ချင်စရာ ကျနော်က ဘာမှ ရေရေရာရာမသိ။

"လင်းဝေ မင်းစားစရာရှိတာ မြန်မြန်စား၊ ပြီးရင် ကျောင်းသွားမယ် လိုက်ရှာကြမယ်။ မင်းကဘာမှ မသိမှ တော့ လိုက်ရှာရမဲ့နည်း တစ်နည်းပဲရှိတယ် ငါ့ကောင်ရေ"

ကိုကျော်သူ့စကားအဆုံးမှာ ကျနော်လဲ စားလက်စအသုပ်ကို ရပ်လိုက်သည်။ ပိုက်ဆံရှင်းကာ ကျောင်းသို့ ထွက်လာခဲ့ကြသည်။

စိတ်ကသာ ဦးဆောင်နေခဲ့သည် သို့သော် ခြေလှမ်းများကတော့ ကျောင်းဝင်းထဲစရောက်ကထဲက တဖြည်းဖြည်းနှေး၍လာသည်။ ကြောက်စိတ်များလဲအနည်းငယ်ဝင်လာခဲ့သည်။

သရဖီဆောင်အရှေ့တွင်

"ဟာ ရှင်ဒါဘယ်လိုလုပ်လိုက်တာလဲ ဒီမှာ အင်္ကျီတခုလုံး အအေးတွေ ပေကုန်ပြီ ရှင်မျက်စိမပါဘူးလား ဟမ် လမ်းလျှောက်တာ ကြည့်မလျှောက်ဘူးလား ဘယ်လိုလူလဲ မသိဘူး"

ပြောဆိုရင်း ထွက်သွားလေသည်။ ကျနော်မှာတော့ ဘာမှ ပြန်ပြောခွင့် မပြောလိုက်ရသလို တောင်းပန်ခွင့်လဲမရလိုက်။ ကံဆိုးတာသည်လား ကံကောင်းသည်လားပင် မသဲကွဲတော့။ ကျနော့် စိတ်အာရုံအတွင်းနေရာယူနေသော မိန်းကလေးသည်

ယခုပင် ကျနော်ဝင်ကာတိုက်မိ၍ အအေးများသူ့အင်္ကျီပေါ် ဖိတ်ကုန်၍ ဒေါသတကြီးနဲ့ ကြိမ်းမောင်းပြောဆိုသွားသောသူ ဖြစ်နေသည်။

~~~~~~~~~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~~~~~~~~~

# အပိုင်း (၂)

"ကိုကျော်သူ ခုနကဗျာ ကျနော်ဝင်တိုက်မိတဲ့ ကောင်မလေးကို သိလား"

"အေးသိတယ်လေ ငါတို့ major က ပထမနှစ်ကျောင်းသူ၊ စာလဲအရမ်းတော်တယ် သူ့အမှတ်က ဆေးတက္ကသိုလ်တောင် မှီတယ်ကွ သူဘာလို့ E major ယူလဲတော့ ငါလဲမပြောတတ်ဘူး"

"ကျနော် မနက်က အသုပ်ဆိုင်မှာပြောတဲ့ကောင်မလေးလေ အဲ့တာသူဗျ"

"မင်းကလဲတကယ့်ကောင်ပဲကွာ"

"ဒါနဲ့ ကိုကျော်သူ သူ့အကြောင်းသိသလောက်ပြောပြဗျာ"

"အလကားတော့ မရဘူးငါ့ကောင်"

ထိုစကားကို ကျနော်သဘောပေါက်သည်။ ထိုကြောင့် ကျောင်းကန်တေးက "အားသစ်" ဆိုသည့် ကော်ဖီဆိုင်ကို ထွက်လာခဲ့ကြသည်။

ထိုကော်ဖီဆိုင်ကို ကျနော်မကြာခန ထိုင်ဖြစ်သည်။ ကော်ဖီဆိုင်၏ အပြင်အဆင်သည် ရိုးရှင်းလှသည်။ ဆွေးရန် တွေးရန် ကောင်းသော နေရာလဲဖြစ်သည်။ ဗန်ဒါပင် အရိပ်အောက်မှာ ဆိုင်တည်ထားကာ၊ အစားအစာလဲ စုံလင်သည်။

"ညီလေးရေ ကော်ဖီ ၂ ခွက်ပေးကွာ၊ ဆေးလိပ် တစ်ဘူးရောချ"

"ကိုကျော်သူ သူ့အကြောင်း အကိုသိသလောက်ပြောပြ"

"မင်းကလဲ လောတာ ကွာသူ့နာမည်က"

ကိုကျော်သူ့ ကျေးဇူးကြောင့် သူမ၏အကြောင်းကို ကျနော် သိသင့်သလောက် သိခွင့်ရခဲ့သည်။ သူမက အနေအေး၍ စာလဲ တော်သည်။ ပန်းချီဆွဲတာကို ဝါသနာပါ၍ ချစ်စရာကောင်းသည်။ အသားဖြူကာ ဆံပင်လဲရှည်သည်၊ သူမကို ကြိုက်နေသော ကောင်များကလဲ ဒုနဲ့ဒေး။ သူမ၏ နာမည်မှာ အဆန်း သူမနှင့် ပတ်သတ်သောသူများက "မေသင်း" ဟုခေါ်ဆို၍ ကျနော်ကတော့ မေ ဟုသာ ခေါ်ဆိုမည်။ ယနေ့မှစ၍ ကျနော် သူမနောက်သို့ တစ်ကောက်ကောက်လိုက်ရန် ဆုံးဖြတ်ချက်ချလိုက်သည်။

~ ~ ~ ~ ~ ~ ~ ~ ~ ~ ~ ~ ~ ~ ~

အရာအားလုံး ဘာမှမပြောင်းလဲပဲ တည်ရှိနေသည်။ သာမန် ကျောင်းတက်ရက်လေး တစ်ရက်သာဖြစ်သည်။ သို့သော် ထူးခြားသည်တစ်ခုမှာ ကျနော့်မျက်စိရှေ့တွင် ဖြစ်ပေါ်နေသည်။ ပုံမှန်အားဖြင့် မေသင်းကို ကျောင်းမုန့်ဈေးတန်းတွေ တွေ့ရန် ခက်ခဲလှသည်။ အကြောင်းက တခြားမဟုတ် သူမသည် အချိန်ရှိတိုင်း စာအုပ်နှင့် မျက်လုံး မခွာသောကြောင့်ဖြစ်သည်။ ထို့ကြောင့်ပဲ မျက်မှန်တပ်နေရခြင်းဖြစ်မည်။

သူမထိုင်နေသော နေရာနှင့် ခပ်လှမ်းလှမ်းက စားပွဲကို ဝင်ထိုင်လိုက်သည်။ သူမအား ငေးကြည့်၍သာ နေသည်။ သူမတော့ နည်းနည်းလေးမှ သတိထားမိသည့်ပုံမပေါ် စာအုပ်များနှင့်သာ အလုပ်ရှုပ်နေသည်။ တစ်ခဏအကြာတွင် သူမ သူငယ်ချင်းများလဲ ရောက်လာခဲ့သည်။ ကျနော်ကတော့ ဟန်မပျက်ပဲ ဆက်ငေးနေလိုက်သည်။

မေသင်းတို့ သူငယ်ချင်းတစ်စု နာရီဝက်ခန့်ကြာတော့ ထပြန်သွားကြသည်။ ကျနော်လဲ သူမနောက်သို့ တစ်ကောက်ကောက်လိုက်ရန် ထလိုက်သွားသည်။ စောစောက မေသင်း ထိုင်သွားသော နေရာ၌ စာအုပ်တစ်အုပ်ကျန်ခဲ့သည်။ ကျနော် ထိုစာအုပ်ကိုယူ၍ လှန်ကြည့်ကာ အနည်းငယ်စပ်စုလိုက်သည်။ စာအုပ်အဖုံးမှာ

ရေးထိုးထားသော နာမည်က မေသင်းဖြစ်သည်။ ကိုကျော်သူ ပြောသည်များမှာ အမှန်ပင်ဖြစ်သည်။ ထို့နောက် သူမကို သူမ ကျန်ခဲ့သော စာအုပ်လိုက်ပေးရန် အလောတကြီး ထွက်လာခဲ့သည်။

"ဟိတ် ဟိတ် မေသင်း"

ကျနော့်ခေါ်သံအား သူမ ကြားသည်နှင့်တူသည်။ တစ်ချက် လှည့်ကြည့်ကာ

"ရှင် ကျမကိုခေါ်တာလား ဘာပြောမလို့လဲ မြန်မြန်ပြော ကျမ မအားဘူး"

ရုတ်တရက်ဆိုသောကြောင့် ကျနော်စွံ့အနေခဲ့သည်။ ဘာမှ ပြန်မပြောနိုင်။ မေသင်းကပဲ ဒေါသထွက်သောအကြည့်နဲ့ ကျနော့်အား ကြည့်ကာ

"သြော် ရှင် ဟိုတစ်နေ့က ကျမအင်္ကျီအပေါ်ကို အအေးတွေ ဖိတ်အောင် လုပ်တဲ့တစ်ယောက် မလား၊ ရှင်တော်တော် အားနေတာလား၊ ကျမကိုပဲလိုက်ပြီး ပြဿနာရှာနေတာ"

"ဗျာ"

ဗျာဆိုသည်မှ လွဲ၍ ကျနော်ပြောမထွက် သူမပြောသမျှသာ ငြိမ်ခံနေသည်။ သူမကတော့ ကျနော့အား ရန်တွေ့ပြီး ထွက်သွားလေသည်။ ကျနော် အနည်းငယ် ပြုံးမိသည်။ စိတ်ဆိုး ဒေါသထွက်နေသည့် သူမ ပုံလေးက ချစ်စရာလေးပင်၊ ချက်ချင်း သတိရလိုက်သည်က သူမစာအုပ်ကို ကျနော်မပေးလိုက်ရခြင်း ဖြစ်သည်။

~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~

# အပိုင်း (၃)

တစ်လခန့်ကြာမြင့်လာခဲ့သည်။ သို့သော် မေသင်း၏ စာအုပ်အား ယခုအချိန်ထိ သူမလက်ထဲသို့ ပြန်မပေးရသေးပေ။ စွာတေး လန်လေးကို ကြောက်နေသောကြောင့်ပင်ဖြစ်သည်။ ဒါပေမဲ့ သူမ၏ နောက်ကိုတော့ အရင်တိုင်း လိုက်မြဲလိုက်စဲပင်။ ကံတရားက မျက်နှာသာပေးသည့်ဟန်ပင်။ မေသင်းနှင့် နောက် တစ်ကြိမ်အဖြစ် ကျောင်းမုန့်ဈေးတန်းရှိ အားသစ် ကော်ဖီဆိုင်၌ပင် တွေ့ဆုံရခဲ့သည်။ ဒီတစ်ခါတော့ ကျနော်မေသင်း၏ စာအုပ်လေးအား ပြန်ပေးရန် အားတင်း၍ သူမအရှေ့သို့ သွားလိုက်သည်။ ခပ်တည်တည်ဖြင့် သူမနှင့် မျက်နှာချင်းဆိုင် ထိုင်ခုံမှာ ဝင်ထိုင်လိုက်သည်။ သူမက ခေါင်းမော့ကာ ကျနော့်အား တစ်ချက်ကြည့်၍ သူ့လက်ထဲက စာအုပ်ကိုသာ ပြန်လည် အာရုံထားလိုက်သည်။ ဒီတစ်ခါတော့ ကျနော်အား ရန်မတွေ့တော့ပေ။ သို့ပေသည့် ကျနော့်စိတ်ထဲမှာတော့ ဘုရားစာများ ရေရွတ် နေမိသည်။ ချောင်းတစ်ချက်ဟန့်ကာ သူမကို စကားစပြောရန် ပြင်လိုက်သည်။

"မေသင်း ဒီမှာ လွှန်ခဲ့တဲ့ တစ်လလောက်က မင်းကျန်ခဲ့တဲ့ စာအုပ်၊ ကျနော်က အနောက်ကလိုက်ပေးတော့ မင်းက ရန်ပြန်တွေ့နေတာနဲ့ မပေးရလို့ အခုလာပေးတာ"

သူမ ကျနော်အား မျက်စောင်းထိုးကြည့်ကာ

"ရှင် အခုမှ လာပေးတော့ ကျမက ဘာလုပ်ရမှာလဲ"

"ကြောက်လို့"

"ဘာ...ကြောက်လို့ ဟုတ်လား ကျမက ရှင့်ကို ကိုက်စား မယ်များ ထင်နေတာလား ကျမမှာ စာအုပ်ပျောက်လို့ ရှာလိုက်ရတာ မူးနောက်နေတာပဲ"

သူမကတော့ ထုံးစံအတိုင်း ရန်တွေ့နေလေသည်၊ ကျနော်လဲ မပြောင်းလဲပေ ကြောင်တောင်တောင်လေးသာ သူမကို ကြည့်နေမိသည်၊ "ကြောက်လို့" ဆိုသော စကားကို တိုးတိုး လေးသာ ပြောလိုက်မိပေမဲ့ သူမကတော့ ကြားသွားခဲ့သည်။ သူမပြောဆိုပြီး ဒေါသထွက်နေပုံလေးကို ကြည့်ပြီး ကျနော် ပြုံးမိသည်။

ထိုအခါလဲ သူမက

“ရှင်ဘာရယ်တာလဲ ဟမ် ဟမ်”

ကျနော်ပိုပြီး ရယ်ချင်မိသည်။ ထို့နောက်သူမကို

“ကျနော်ရယ်တာမဟုတ်ပါဘူးဗျာ၊ မင်းစိတ် ဒေါသထွက်နေတာလေးက တစ်မျိုးလေးမို့ ပြုံးယုံလေး ပြုံးမိတာပါ၊ နေပါအုံး မင်းက ဘာလို့အဲ့လောက်စွာနေတာလဲ”

“ရှင်ကရော ကျမကို ဘာလို့ ပြဿနာ လိုက်ရှာနေတာလဲ၊ ရှင့်ကြောင့် ကျမ အင်္ကျီတွေ အအေးတွေ စိုကုန်တာလေ ကျမ အဲ့နေ့က ဘယ်လောက်ဒုက္ခရောက်လဲ သိလား”

“ဟုတ်ပါပြီ အဲ့အတွက် ကျနော် တောင်းပန်ပါတယ်၊ တကယ် အနူးညွတ်တောင်းပန်ပါတယ်”

ကျနော် တောင်းပန်လိုက်မှ ဆူပုတ်ပုတ်ဖြစ်နေသော သူမ မျက်နှာလေးက အပြုံးဘက်သို့ကူးပြောင်းသွားသည်။ ကျနော် သိလိုက်ရသည်က သူမက ပြုံးလျှင်လဲ ချစ်စရာကောင်းလှသည်။

ကျနော်နဲ့ မေသင်း စကားများ ဆက်လက်ပြောဖြစ်ခဲ့ကြသည်။ သူမဆီက ခင်မင်မှုလဲ အနည်းငယ်ရခဲ့သည်။

“ကဲ စကားကောင်းနေတာ အတန်းချိန်တောင် နီးလာပြီ ကျမသွားတော့မယ် ပိုက်ဆံရှင်းမယ်ရှင့်”

“နေပါ မေသင်း၊ ကျနော် ကျွေးပါ့မယ် သူငယ်ချင်းဖြစ်တဲ့ အထိမ်းမှတ် အနေနဲ့ပေါ့”

“ရှင့်ကို ဘယ်သူက ကျမ သူငယ်ချင်းဖြစ်ပြီလို့ ပြောလို့လဲ”

“ဗျာ”

“စတာပါရှင် ရှင့်သဘောဟုတ်ပြီလား ကျမသွားပြီ”

ယခုနေ့လေးက ကျနော့်ဘဝမှာ အမိပ္ပါယ်ရှိတဲ့ နေ့လေးတစ်ခု ဖြစ်ခဲ့သည်။ မေသင်း၏ အမြင်မကြည်မှုမှ ကင်းလွတ်ခဲ့သလို သူမနဲ့လဲ ခင်မင်ရင်းနှီးမှုရခဲ့သည်။ ထိုအကြောင်းများကို Diary စာအုပ်လေးထဲ ချရေးထားလိုက်သေးသည်။

~~~~~~~~~~~~~~~~~~

အချိန်တွေ ကြာလာသည်နှင့်အမျှ မေသင်းနှင့် ပိုမိုရင်းနှီး လာခဲ့သည်။ သူမအကြောင်းများကိုလဲ အရင်ကထပ် ပိုသိ လာခဲ့သည်။ သူမသည် ရှမ်းလူမျိုးဖြစ်သည်။ အတိအကျဆိုရလျှင် ဗမာနှင့် ပလောင်ဆက်ဖြစ်သည်။ တစ်ဦးတည်းသော သမီးဖြစ်၍
~~~~~~~~~~~~~~~~~~

သီတင်းကျွတ် လပြည့်နေ့တွင် မွေးဖွားသော အမျိုးသမီး ဖြစ်သည်။ ကျနော် မဖြစ်ချင်ဆုံးသော အရာကြီးတစ်ခု ဖြစ်လာခဲ့ သည်။ ရှောင်လွှဲလို့ မရသော်လဲ ဒီကနေ့ ဒီအချိန်ကို ရောက် မလာရန် အမြဲဆုတောင်းနေခဲ့ရသည်။

သို့သော်ရှောင်လွှဲ၍မရ။ စာမေးပွဲဖြေဆိုရတော့မည်။ တနည်း အားဖြင့် မေသင်း နှင့်ခွဲရတော့မည်။

ကျောင်းသကြံန်ဖြစ်၍ ကျောင်းသားအားလုံးနီးပါး ပျော်ပါး နေကြသော်လဲ ကျနော်ကတော့ မပျော်နိုင်။ နောက် ၁၀ ရက်ဆို စာမေးပွဲများ ဖြေဆိုကာ မေသင်းနှင့် ဝေးရတော့မည်။ ဒီကနေ့ သူမကို မဖွင့်ပြောလိုက်မိရင် နောင်မသေချာတော့ပေ။ ထိုစိတ် ကြောင့်လဲ မပျော်ရွှင်နိုင်။ ခက်လှသည်။

“ဟာ ရေတွေစိုကုန်ပြီ”

“သကြံန်ပဲဟာ မေကလဲ စိတ်ဆိုးတာလား”

“အယ် မေတဲ့ ထူးဆန်းနေပါလား”

သူမကလည်း ကျနော့်အား ရေပြန်လောင်းခဲ့သည်။ အဲ့ဒီနောက် အနီရဲရဲ ပန်းပွင့်များနှင့် ဆင်မြန်းအလှဆင်ထားသော စိန်ပန်း

ပင်များ ရှိရာသို့ ကျနော်တို့ နှစ်ယောက်သား လျှောက်လှမ်းလာခဲ့ကြသည်။

မြေပြင်ပေါ် ပြန့်ကျဲနေသော စိန်ပန်းပွင့်များ၊ အပင်ထက်တွင် လှပစွာဖူးပွင့်နေသော စိန်ပန်းများနှင့် ကျောင်းတက်ရသည့် နောက်ဆုံးရက် ခံစားချက်က နွမ်းသက်သက်။

“မေ ကျနော် ပြောစရာရှိလို့”

“ပြောလေ ကိုလင်းဝေ စကားပလ္လင်ခံစရာမလိုပါဘူး”

“မေ စိတ်မဆိုးရဘူးနော်”

“ပိုက်ဆံချေးမလို့လားရှင်”

“ဟာ မေကလဲ နောက်နေပြန်ပြီဗျာ ကျနော် မေ့ကို ချစ်တယ်၊ မေ့ကို နှစ်စကထဲက ချစ်လာတာပါဗျာ၊ ကျနော့်အချစ်ကို လက်ခံပေးပါနော်”

“ရှင်”

သူမပါးစပ်မှရှင်ဆိုသော စကားသာထွက်လာခဲ့ပြီး ကျနော်တို့ နှစ်ယောက်လုံး တိတ်ဆိတ်နေခဲ့သည်။ တခဏ အကြာမှာတော့ သူမက

"ကျမ ရှင့်ကို မမုန်းပါဘူး ကိုလင်းဝေ"

"မမုန်းဘူးဆိုတော့ ကျနော့်ကို ချစ်တယ်ပေါ့နော်"

"အဲ့လိုလဲ မဟုတ်ဘူးလေ မမုန်းဘူးလို့ပဲပြောတာလေရှင်"

သူမ ရှက်ကိုးရှက်ကန်းနှင့် ကျနော့်မျက်စိအောက် ပြေးထွက်သွားသည်။ စာမေးပွဲဖြေဆိုနေသည့် ၆ ရက်အတွင်းမှာလည်း မေ နှင့် ကျနော်နဲ့ မဆုံဖြစ်ကြပေ။ စာမေးပွဲတွေ ဖြေဆိုပြီးနောက် ကျနော်လဲ ကျနော့်၏ အိမ်ရှိရာ မုံရွာမြို့သို့ပြန်လာခဲ့သည်။

~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~

# ဇာတ်သိမ်းပိုင်း

၂ လဆိုသည့် အချိန်ကာလက ကျနော့်အတွက် နှစ်ဘဝစာလောက် ကြာမြင့်သည်။ နေ့စဉ်ရက်ဆက် မေ့ အား လွမ်းသည့်စိတ်မှာလည်း ထိန်းချုပ်၍မရ။ ကျနော်တစ်ခါလွမ်းတိုင်း အလွမ်း၏သင်္ကေတအဖြစ် ကောင်းကင်က ကြယ်တွေကိုသာ ခူးဆွတ်ခဲ့ရင် ယခုလို ကောင်းကင်မှာ ကြယ်များ၏ အလှကို ကြည့်ခွင့်ရတော့မည် မဟုတ်ပေ။ ဒီအချိန် ယန္တယားကြီး မြန်မြန်လည်ပတ်စေကာ ကျောင်းဖွင့်မည့် အချိန်ကိုသာ ရောက်ချင်နေတော့သည်။ မေရော အခုချိန် ဘာတွေလုပ်နေမလဲ၊ နေရောကောင်းရဲ့လား၊ ချစ်သူ ရည်းစားရော ရနေပြီလာ အစရှိသည့် အတွေးများကလဲ တပိုင်းတစ်စနှင့်။

သဘာဝတရားက ကျနော့်အား မကြည့်ရက်တော့ဘူးနှင့်တူသည်။ မနက်ဖြန်ဆိုလျှင် တက္ကသိုလ်ကျောင်းတွေ ပြန်ဖွင့်တော့မည်ဖြစ်သည်။ မေနှင့် ပြန်စုံတွေ့ရတော့မည်ဆိုသည့် အသိနှင့် ပျော်ရွှင်မှုက ဖြစ်တည်မှုတိုင်းရဲ့ အလှအပတစ်ခုသဖွယ် ကြည်နူးစရာ ကောင်းလှသည်။ ရန်ကုန်ကို ရောက်နေခဲ့သည်မှာ တစ်ပတ်ခန့်ရှိပြီ ကျောင်းတက်ရန် ပြင်ဆင်နေသည်နှင့် မအားနိုင်။ မေ့အား နေ့စဉ်နေ့တိုင်း သတိရနေသည်ကလဲ မပြောင်းလဲခဲ့ပေ။

လွန်ခဲ့သော ၂ လခန့်က နေဖင်ထိုးအောင် အိပ်လေ့ရှိသော ကျနော်က ဒီကနေ့မှာတော့ မနက်ခင်း ခပ်စောစော ၅ နာရီ ထိုးကထဲက နိုးနှင့်နေသည်။ ကျောင်းပြန်တက်ရမည့် နေ့ဖြစ်သော ကြောင့် လိုအပ်သည်များ ပြင်ဆင်ကာ အချိန်ကို စောနိုင်သမျှ စောစော ကျောင်းသို့ထွက်လာခဲ့သည်။ ကျောင်းဝင်ပေါက်ရှေ့မှာ မေ့အား ထိုင်စောင့်နေခဲ့သည်။ ၁၅ မိနစ်ခန့် ကြာပြီးနောက် ကျောင်းဝန်းအတွင်းသို့ ဝင်လာသော လူအုပ်အတွင်းမှာ ခရမ်းရောင် မြန်မာဝတ်စုံလေးနှင့် လမ်းလျှောက်လာသော မေ့ အား လှမ်းမြင်နေရသည်။ သူမနှင့် နောက်တစ်ကြိမ် စုံတွေ့ခွင့် ပေးသော ကံတရားကို ကျေးဇူးတင်ကာ ပီတိများနှင့် သူမ အနားသို့လျှောက်လှမ်းသွားခဲ့သည်။

~~~~~~~~~~~~~~~~~~

"ကဲ သမီး ပုံပြင်လဲ ပြီးပြီ အိပ်တော့နော်"

နဖူးလေးကို ဖွဖွလေးနမ်းရှိုက်ကာ ကျနော့်သမီးငယ်လေးအား ထိုသို့ပြောလိုက်သည်။ ဂွမ်း စောင်မထူမပါးကို ဆွဲခြုံပေးပြီး သမီးလေး၏ အခန်းမှ ထွက်လာခဲ့သည်။ ထို့နောက် အိမ်အောက် ထပ်သို့ ဆင်းကာ ထမင်စားခန်းအတွင်းရှိ ရေခဲသေတ္တာထဲမှ
~~~~~~~~~~~~~~~~~~

ရေခဲရေတစ်ဘူးကို ယူသောက်ကာ အကြောင်းအရင်းမရှိ ကြည်နူးနေမိသည်။ လွန်ခဲ့သော ၁၂ နှစ်ခန့်က ဖြစ်ပျက်ခဲ့သည်များမှာ ပြန်ပြောပြရတဲ့ အချိန်တိုင် မနေ့တစ်နေ့က ဖြစ်ပျက်ခဲ့သလိုပါပင်။ တက္ကသိုလ်ကျောင်းကြီး ပြီးဆုံးတော့ ကျနော်လည်း ကျနော်ဘ၀ ရှေ့ရေးအတွက် Dubai မှာ အလုပ်သွားလုပ်ခဲ့သည်။ မေကတော့ ကလေးတွေကို English စာသင်ပေးတဲ့ ဆရာမ ဖြစ်လာခဲ့ပြီး ရံဖန်ရံခါမှာလဲ သူဝါသနာပါသော အရာဖြစ်သည့် ပန်းချီများလဲ ဆွဲသည်။

ဒီတစ်ကြိမ်မှာလဲ ကံတရားကိုပဲ ကျေးဇူးတင်ရတော့မည်။ ကျနော် မြန်မာနိုင်ငံကို ပြန်ရောက်လာခဲ့သည်မှာ မကြာသေးပေ။ မေနှင့် ရွှေတိဂုံဘုရားပေါ်မှာ ပြန်တွေ့ရသည်။ မေ့ကို သွားနှုတ်ဆက်ရင်း လက်ကနာရီကို ကြည့်မိသည်၊ သူမ၏ မွေးနေ့ဖြစ်နေသည်။ ကျနော်တို့နှစ်ယောက် အချိန်အတော်ကြာ စကားပြောဖြစ်ခဲ့ကြသည်။ ရှေ့ဖြစ်နောက်ဖြစ်များဆိုလဲ မမှားပေ။

ရေသောက်ရင်း အတိတ်က အရာများ ပြန်တွေးကာ ကြည်နူးနေသည်မှာ အချိန်အနည်းငယ်ကြာသွားသည်။ ယခုဆို မေက ကျနော့်ဘေးမှာထာဝရ ရှိနေတော့မည်ဖြစ်သည်။ မေရယ်၊ ကျနော်ရယ်

သမီးလေးရယ်နှင့် ပျော်ရွှင်စရာ မိသားစုလေးတစ်ခု ပိုင်ဆိုင်ထား ရသည်မှာလဲ တိုင်းတာ၍မရသော ပျော်ရွှင်မှုတစ်ခုဖြစ်သည်။

~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~